မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၄၃/၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၉ ရက်
(၂၀၀၁ ခုနှစ်၊ မေလ ၁၅ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.)မှ ကမကထပြုသူ ဦးကျော်ဌေး အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ သံတော်လီရပ်ကွက်၊ ဆတ်ရိုးကျအလယ်၊ ဦးပိုင်အမှတ် (ခ/၄၈၊ ၄၉၊ ခ/၅၀၊ ဆ/၅၁၊ က/၅၂) မြေကွက် အမှတ်(၁၂)ရှိမြေ (၅.၀၀၂)ဧက (၂၀၂၄၂.၃၉ စတုရန်းမီတာ) ပေါ်တွင် ရေခဲစက်နှင့် အအေးခန်း သိုလှောင်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား(၁၂-၃-၂၀၀၁) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၀၁)ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး (၂၂-၃-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၀-၅-၂၀၀၁) နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၈/၂၀၀၁) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) အား ရေခဲစက်နှင့် အအေးခန်း သိုလှောင်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၄၉၃/၂၀၀၁ ကို ထုတ်ပေးလိုက်သည်။

၂။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ည)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) နှင့် (ည) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် လုပ်ငန်း အတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေး ချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၇။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း

ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန္တရာယ်ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပါက စက်ရုံကို ပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၁၁။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၄။ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေး ယူခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၇၀၉/၂၀၀၁ ( ၇၁၅ – ၈ )
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၁၅ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ရခိုင်ပြည်နယ် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၅။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၈။ မန်နေးဂျင်း ဒါရိုက်တာ၊ ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.)။

အထွေထွေ-အရပ်ရပ် – ၁၆
( ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

အကြောင်းအရာ။ ။ <u>ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်မှ ရေခဲစက်နှင့်အအေးခန်း သိုလှောင်ရုံတည် ဆောက်ခွင့်၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာ့ကုမ္ပဏီဖြစ်သော ပတ္တမြား အတိုင်ပင်ခံနှင့်ရောင်းဝယ်ရေး လီမိတက် ( Ruby Consulting & Trading Ltd. ) - မှ တ မကထ ပြုသူ ဦး ကျော်ဌေး အမည်ဖြင့်အသုံးပြုခွင့်ရရှိထား သော ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ သံတောင်လီရပ်ကွက်၊ ဆတ်ကိုး ကျွန်းလယ်၊ ဦးပိုင်အမှတ် ( ခ/၄၈၊ ၄၉၊ ခ/၅၀၊ ဆ/၅၁၊ က/၅၂ ) မြေကွက်အမှတ် ( ၁၂ ) ရှိမြေ ( ၅.၀၀၂ ) ဧက ( ၂၀၂၄၂ .၃၉ စတုရန်း မီတာ ) ပေါ်တွင် ရေခဲစက်နှင့်အအေးခန်း သိုလှောင်ရုံတည် ဆောက်၍ သန့်ရှင်း လတ်ဆတ် သောငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား ( ၁၂-၃-၂၀၀၁ ) နေ့ တွင်ကျင်း ပပြုလုပ်သည့်မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၀၁) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအား ဖြင့်သဘောတူညီခဲ့ပြီး(၂၂-၃-၂၀၀၁) နေ့တွင်ကျင်း ပ သောကုန်သွယ်မှုမူဝါဒ ကောင်စီ၏ ( ၂/၂၀၀၁ ) ကြိမ်မြောက် အစည်း အဝေး သို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်း အဝေး မှသဘောတူညီ ချက်အရ အစိုးရ အဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံး ဖြတ်ချက်နှင့်အညီ (၁၀-၅-၂၀၀၁) နေ့တွင်ကျင်း ပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံ တော်အစိုးရ အဖွဲ့၏ ( ၁၈/၂၀၀၁ ) ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ရာ ယင်း အစည်း အဝေး မှသဘောတူ ကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

အထွေထွေ အရပ်ရပ် – ၁၆
( ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )



၃။ ထို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်း ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီ ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် ( Ruby Consulting & Trading Ltd ) သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုး နိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၁၈-၅-၂၀၀၃။

ဥက္ကဌ

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက–၁/မ– ၁၂၃၅/ ၂၀၀၁ (၁၄၃–ခ)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၂ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၂–၃–၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၂၂–၃–၂၀၀၁) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၅)သန်း အပါအဝင် စုစုပေါင်းကျပ် (၅၀.၄၁)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို စင်ကာပူနိုင်ငံ Speed Freeze Technology မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ကမကထပြုသူ ဒေါက်တာ ကျော်ရွှေ (Ruby Consulting & Trading Ltd.) အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရခိုင်ပြည်နယ်၊ သံတော်လီရပ်ကွက်၊ ဆတ်ရိုးကျအလယ်၊ ဦးပိုင်အမှတ် (ခ/၄၈၊ ၄၉၊ ခ/၅၀၊ ဆ/၅၁၊ က/၅၂) မြေကွက်အမှတ် (၁၂)ရှိမြေ (၅.၀၀၂)ဧက (၂၀၂၄၂.၃၉ စတုရန်းမီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ငါး၊ ပုစွန်များကို ပြည်ပသို့ ရာခိုင်နှုန်းပြည့်တင်ပို့ ရောင်းချမည်ဖြစ်ပြီး ရေခဲကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ရေတွက်ပုံ | အရေအတွက် |
|---|---|---|---|
| | ထုတ်လုပ်မှု | | |
| ၁ | White Pomfret Fish | မက်ထရစ်တန် | ၂၀ |
| ၂ | Ribbon Fish | ” | ၂၀ |
| ၃ | Croaker Fish | ” | ၂၀ |
| ၄ | Grouper Fish | ” | ၂၀ |
| ၅ | Spanish Mackerel Fish | ” | ၂၀ |
| ၆ | White Prawn | ” | ၂၁ |
| ၇ | Tiger Prawn | ” | ၂၁ |
| ၈ | Pink Prawn | ” | ၂၁ |
| ၉ | ရေခဲ(ပေါင် ၃၀၀) | တုံး | ၆၇၂၀၀ |
| | ဝန်ဆောင်မှု | | |
| ၁၀ | ငါး/ပုစွန် | မက်ထရစ်တန် | ၁၁၅၀၀ |

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၇)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၄.၄၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၂.၉၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၃.၆၇ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၇ သန်း |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၁၁)ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ရခိုင်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီ၊ စစ်တွေမြို့မှ အဆိုပြုလုပ်ငန်းမှာ ငါးကဏ္ဍ ဖွံ့ဖြိုးရေး နိုင်ငံခြားငွေ ရရှိနိုင်ခြင်း ဒေသခံများ အလုပ်အကိုင် ရရှိနိုင်ခြင်း စသည့် အကျိုးကျေးဇူးများ ရရှိနိုင်ကြောင်းနှင့် တင်ပြသည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးကြောင်းနှင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြု အအေးခန်းစက်ရုံသည် ရေဆိုးပြန်လည်သန့်စင်စက် (Waste Water Treatment Plant) တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားသဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် ပြည်ပတင်ပို့မှုအပေါ် ပိုကုန်စံချိန်စံညွှန်း စိစစ်ရန်အတွက် ငါးလုပ်ငန်း ဦးစီးဌာန၏ အရည်အသွေးဆိုင်ရာ စစ်ဆေးမှုများ ခံယူရန်လိုကြောင်း၊ ငါးဝယ်ယူခြင်း ပြုပြင်ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ တည်ဆဲ ငါးလုပ်ငန်း ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုကြောင်းနှင့် ဖေါက်ဖျက်ပါက အရေးယူဆောင်ရွက်သွားရန် ဖြစ်ကြောင်း၊ တည်ဆောက်မည့် စက်ရုံမြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင်မည့် မြေနေရာ ဖြစ်ရန်လိုကြောင်း၊ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှု၊ ချေးငွေရယူမှုတို့ အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

ရခိုင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
စစ်တွေမြို့
စာအမှတ်၊ ၀၇ / ၇ - ၁ / ပယက ( ကိုင် )
ရက်စွဲ ၊ ၂၀၀၁ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းအပေါ် အကြောင်းပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ ပတ္တမြားအကိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်၏ - ၃-၁-၂၀၀၁ ရက်စွဲပါ လျှောက်ထားစာ

၁။ ပတ္တမြားအကိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်သည် ကိုင်းရင်းသားပိုင်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်ပြီး ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ သံတော်လိရပ်ကွက်၊ ဦးပိုင်အမှတ်( ခ/၄၀၊ ၄၉၊ ဘ/၅၁၊ ခ/၅၀၊ က/၅၂ )၊ မြေဧရိယာ( ၅.၀၀၂ )ဧကအကျယ်အဝန်းရှိသောမြေနေရာတွင် နိုင်ငံခြားအကျိုးတူမိတ်ဖက်အား အအေးခန်းစက်ရုံတည်ဆောက်၍ သန့်စင်လတ်ဆတ်သောငါး ၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပါကုမ္ပဏီသည် ရခိုင်ပြည်နယ်အတွင်း အဆိုပြုလုပ်ငန်းအား အမှန်တကယ်ဆောင်ရွက်နိုင်မည်ဖြစ်ပြီး ၊ ငါး / ပုစွန်ကုန်ချောများ ထုတ်လုပ်တင်ပို့ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများ ဖြစ်ပေါ်လာနိုင်ပါသည်-

( က ) ရခိုင်ပြည်နယ်အား ငါးကဏ္ဍပိုမိုဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်း ၊
( ခ ) နိုင်ငံခြားငွေတိုးပွားရရှိလာနိုင်ခြင်း ၊
( ဂ ) ဒေသခံကိုင်းရင်းသားများ အလုပ်အကိုင်ပိုမိုရရှိလာနိုင်ခြင်း ၊
( ဃ ) ကိုင်းရင်းသားပိုင်ကုမ္ပဏီများ ပွားတိုးတက်လာပြီး၊ ကုန်ထုတ်လုပ်မှုလုပ်ငန်းများ ကျယ်ပြန့်တိုးတက်လာနိုင်ခြင်း ၊
( င ) နိုင်ငံတော်၏စီးပွားရေးကို တစ်စိတ်တစ်ဒေသအထောက်အကူရရှိစေနိုင်ခြင်း ။

၃။ သို့ဖြစ်ပါ၍ ရည်ညွှန်းစာအရ လျှောက်ထားသောကုမ္ပဏီနှင့်ပတ်သက်ပြီး အဆိုပြုတင်ပြထားသော ပတ္တမြားအကိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်သည် အဆိုပြုထားသောမြေနေရာတွင် ဖော်ပြပါလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်းနှင့် အဆိုပြုမြေနေရာတွင် အဆိုပါလုပ်ငန်း ဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား )
( ကြည်း ၁၀၁၄၄၃ ဗိုလ်မှူးကြီးသိန်းကြိုင်၊ အတွင်းရေးမှူး )

မိတ္တူ ကို

မြို့နယ် အေးချမ်းသာယာရေး နှင့်ဖွံ့ဖြိုးရေး ကောင်စီ၊ စစ်တွေမြို့
လက်ခံစာတွဲ
ထွေ့စာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

ဝိကျေးမန်မြန်

စာအမှတ်။ ၁/ ၂၀၀ (ည) / ၅၁၀၀ / ၂၇၁
ရက်စွဲ ။ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

အကြောင်းအရာ။ **သဘောတူထား မှတ်ချက် ပြန်လည်တင်ပြခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ (၂၂-၁-၂၀၀၁) ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၇၀၉/၂၀၀၁( ခ၃ က - ဃ)

၁။ ပဏ္ဏမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက် ( RUBY CONSULTING & TRADING ) သည်၊ ရန်ကုန်ပြည်နယ်၊ စစ်တွေမြို့၊ သံတော်လီရဝ်ကွက်၊ မြေကွက်အမှတ် (၁၂) ဆက်ပိုးကျအလယ်တွင် တန် ( ၁၀၀ ) ဆန့် နိုင်ငံတကာအဆင့်မီ အအေးခန်း သို့လှောင်ရုံနှင့် တန် ( ၃၀) ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ၊ သန့်ရှင်းလတ်ဆတ်သော ငါး ပုစွန်များ ထုတ်လုပ်ရောင်းချသည့်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာသည့် အဆိုပြုလွှာအပေါ် ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်း အခန်း (၃) ၊ အပိုဒ်(၁၁)အရ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားပြန်ကြားရန်၊ အထက်ရည်ညွှန်းချက်ပါစာဖြင့် တောင်းခံထားပါသည်။

၂။ ပဏ္ဏမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်၏ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ တွေ့ရှိသုံးသပ်ချက်အား အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည် —

(က) အဆိုပြုတင်ပြသည့် ကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင်အမှတ် ( ၂၆/ ၉၂-၉၃) ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိထားသည့် တိုင်းရင်းသား ပိုင်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ ယင်းကုမ္ပဏီမှ တန် ( ၁၀၀ ) ဆန့်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး ပုစွန်ထုတ်လုပ်ရောင်းချသည့်လုပ်ငန်း တန် ( ၃၀) ကျရေခဲစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းသည်နိုင်ငံတော်၏ ကုန်ထုတ်လုပ်မှုကိုလည်း ကောင်း ၊ ဒေသဖွံ့ဖြိုးရေး ကိုလည်းကောင်း ၊ အထောက်အကူဖြစ်စေပါသည်။ ၄င်းအပြင် မြန်မာနိုင်ငံ သားများ

အတွက် အလုပ်အကိုင်အခွင့်အလမ်း များ ရရှိစေနိုင်ခြင်း၊ စက်မှု နည်း ပညာ ရပ်များ တိုး ပွား ရရှိစေမည်ဖြစ်ခြင်း တို့ ကြောင့် ကုမ္ပဏီ၏ စက်ရုံထူထောင်လိုခြင်း ကို အား ပေး သင့်ပါသည်။

(ခ) နိုင်ငံတော်၏ ရေထွက်ပစ္စည်း အရည်အသွေး မြှင့်တင်ရေး အတွက်၊ လိုအပ်လျက်ရှိသော အအေး ခန်း စက်ရုံတည်ဆောက်ရန်ဖြစ်သ ဖြင့် နိုင်ငံတွက် ရေထွက်ပစ္စည်း များအား တန်ဖိုးရောင်းတန်းဝင်ရေ ထွက်ပစ္စည်း များ အဖြစ် ပြုပြင်ထုပ်ပိုး၍ ပြည်ပသို့တန်ဖိုး မြှင့် ပစ္စည်း တင်ပို့ရောင်း ချနိုင်မည်ဖြစ်ပါသည်။ ထိုသို့ ဆောင်ရွက် ခြင်းဖြင့် နိုင်ငံတော်၏ ပို့ကုန်ပမာဏနှင့်တန်ဖိုး ပိုတိုး တက် ရရှိ လာစေမည်ဖြစ်ပါသည်။ ၄င်း အပြင် ၊ ပြည်ပတင်ပို့ရောင်းချ ခြင်းမှ ရရှိသည့်နိုင်ငံခြားငွေ ( Export Proceeds ) အပေါ်တွင် နိုင်ငံတော်မှ ကောက်ခံရယူသည့် အခွန်အခရရှိမည်ဖြစ်ပါ သော ကြောင့် နိုင်ငံတော်အတွက်လည်း နိုင်ငံခြား ဝင်ငွေပါ တိုးတက် ရရှိလာမည်ဖြစ်ပါသည်။

(ဂ) တည်ဆောက်မည့်အအေး ခန်း စက်ရုံသည် အမိုးနီးယား ဓါတ်ငွေ့သုံး နိုင်ငံတကာအဆင့်ရှိ စက်ရုံဖြစ်ပြီး ၊ ပတ်ဝန်းကျင်ညစ်ညမ်း မှု ကို ကာကွယ်ရန်အတွက် ရေဆိုး ပြန်လည်သန့်စင်စက် ( Waste Water Treatment Plant ) တစ်ဆင်အသုံး ပြုမည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါ၍ ပတ်ဝန်း ကျင်ထိန်း သိမ်း ရေး မှုနှင့် ကိုက် ညီ မှု ရှိ ပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ပြည်ပဈေးကွက်ရရှိပြီးဖြစ်၍ ထုတ်လုပ်သည့်အရည် အသွေး ဗီ ငါး ပုစွန်များ ကို ( ၁၀၀ % ) ပြည်ပသို့တင်ပို့ရောင်းချ မည်ဖြစ်ပါသည်။ ထိုသို့ ဆောင်ရွက်ရာတွင် ပြည်ပပို့ကုန် စံ ချိန် စံညွှန်း စိစစ်ရန်အတွက်၊ ငါး လုပ်ငန်း ဦး စီး ဌာန၏ အ ရည် အသွေး ဆိုင်ရာစစ်ဆေး မှုများကို ခံယူရန် လိုအပ်ပါသည်။

(င) အအေး ခန်း စက်ရုံတည်ဆောက်ပြီး ငါးပုစွန်ပြုပြင်၍ ကုန်ချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ငါးဝယ်ယူခြင်း၊ပြုပြင် ထုတ်လုပ်ခြင်း နှင့်ပတ်သက်၍ တည်ဆဲငါး လုပ်ငန်းဥပဒေ၊ လုပ်ထုံး

လုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်သွားရန်လိုအပ်ပါသည်၊ စည်းကမ်းဖော်ထုတ်ပါက တည်ဆဲ ငါးလုပ်ငန်း ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီအရေးယူဆောင်ရွက်သွားရန်ဖြစ်ပါသည်။

(စ) တည်ဆောက်မည့်စက်ရုံမြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင်မည့်မြေနေရာဖြစ်ရန် လိုအပ်ပါသည်။

(ဆ) နိုင်ငံတော်ပိုင်အအေးခန်းစက်ရုံနှင့်ပုဂ္ဂလိကပိုင်အအေးခန်းစက်ရုံတို့၏ စွမ်းအားသည် ဒေသထွက်ကုန်ပမာဏအရ၊ လိုအပ်ချက် ထက်များစွာလျော့နည်းနေသဖြင့် ဒေသတွင်း ခေတ်မီစက်ရုံသစ် ဦးရေတိုးတက်ရန် လိုအပ်လျက်ရှိပါသည်။

(ဇ) ဒေသခံပြည်သူထုထုအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုတိုးတက်ရရှိစေခြင်းဖြင့် ဒေသတွင်းတည်ငြိမ်အေးချမ်းမှုရရှိကာ၊ နိုင်ငံတော်၏ဦးတည်ချက်(၄)ရပ်အနက် " နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့်တရားဥပဒေစိုးမိုးရေး " ဟူသော ဦးတည်ချက်တစ်ရပ်ကို တစ်နည်းတစ်ဖုံ အထောက်အကူပြုရာရောက်ခြင်း စသည့် အကြောင်းအချက်များကြောင့် ပဏ္ဏမြားအတိုင်ပင်ခံရောင်းဝယ်ရေးလီမိတက်မှ တင်ပြလာသည့် စက်ရုံတည်ဆောက်၍ ငါးပုစွန်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါစည်းကမ်းချက်များနှင့်အညီ ခွင့်ပြု ဆောင်ရွက်စေသင့်ပါသည် —

- EU STANDARD နှင့်အညီစက်ရုံတည်ဆောက်နိုင်ရေးအတွက်၊ စက်ရုံတည်ဆောက်မည့်မြေဧရိယာအကျယ်အဝန်းသည်အနည်းဆုံး (၂)ဧကခန့်ရှိရန် လိုအပ်ပါသည်။
- လုပ်ငန်းရပ်တွက်ဖြစ်ပါက၊ ပတ်ဝန်းကျင်သို့ အနံ့အသက်ဆိုးများမရောက်ရှိစေရေးအတွက်၊ စီစဉ်ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၃။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအနေနှင့် ပဏ္ဏမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်၏ အအေးခန်းစက်ရုံ တည်ဆောက်ခြင်း၊ ရေခဲစက်ရုံတည်ဆောက်ခွင့်ပြုရန်၊ အဆိုပြုချက် အပေါ် ကန့်ကွက်ရန် မရှိပါ

ကြောင်း နှင့် ခွင့်ပြု ဆောင်ရွက်စေသင့်သည့် လုပ်ငန်း ဖြစ်ပါကြောင်းထပ်ဆင့်
ထောက်ခံ တင်ပြအပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
(ကျော်လွင်၊ ညွှန်ကြားရေးမှူးချုပ်)

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး</u>

မိတ္တူ ကို-

(၁) ရုံး အဖွဲ့မှူး၊
မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီး ဌာန

(၂) ညွှန်ကြားရေး မှူး ချုပ်၊
ငါး လုပ်ငန်း ဦး စီး ဌာန

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၃၅/၂၀၀၀ (၄၁၃၁-က)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မတ်လ ၁၉ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၂-၃-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၃၅)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၀.၄၁)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၂၀.၀၀)သန်း၊ မြေတန်ဖိုး ကျပ် (၅.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၂၃.၃၀)သန်းနှင့် စက်ပစ္စည်း တန်ဖိုး ကျပ် (၂.၁၁)သန်း {အမေရိကန်ဒေါ်လာ (၀.၃၅)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို စင်ကာပူနိုင်ငံ Speed Freeze Technology မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ကမကထပြုသူ ဒေါက်တာ ကျော်ဌေး (Ruby Consulting & Trading Ltd.) အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရခိုင်ပြည်နယ်၊ သံတော်လီရပ်ကွက်၊ ဆိတ်ရိုးကျွအလယ်၊ ဦးပိုင်အမှတ် (ခ/၄၈၊ ၄၉၊ ခ/၅၀၊ ဆ/၅၁၊ က/၅၂) မြေကွက်အမှတ် (၁၂)ရှိမြေ (၅.၀၀၂)ဧက (၂၀၂၄၂.၃၉ စတုရန်းမီတာ) တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ငါး၊ ပုစွန်များကို ပြည်ပသို့ ရာခိုင်နှုန်းပြည့်တင်ပို့ ရောင်းချမည်ဖြစ်ပြီး ရေခဲကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ရေတွက်ပုံ | အရေ | ရောင်းဈေးနှုန်း/ဝန်ဆောင်ခနှုန်း | |
|---|---|---|---|---|---|
| | | | အတွက် | ပြည်တွင်း(ကျပ်) | ပြည်ပ(US$) |
| | <u>ထုတ်လုပ်မှု</u> | | | | |
| ၁ | White Pomfret Fish | မက်ထရစ်တန် | ၂၀ | - | ၂၄၀၀ |
| ၂ | Ribbon Fish | ။ | ၂၀ | - | ၈၄၀ |
| ၃ | Croaker Fish | ။ | ၂၀ | - | ၁၉၂၀ |
| ၄ | Grouper Fish | ။ | ၂၀ | - | ၂၄၀၀ |
| ၅ | Spanish Mackerel Fish | ။ | ၂၀ | - | ၈၄၀ |
| ၆ | White Prawn | ။ | ၂၁ | - | ၈၄၀၀ |
| ၇ | Tiger Prawn | ။ | ၂၁ | - | ၉၆၀၀ |
| ၈ | Pink Prawn | ။ | ၂၁ | - | ၆၀၀၀ |
| ၉ | ရေခဲ(ပေါင် ၃၀၀) | တုံး | ၆၇၂၀၀ | ၆၀၀ | - |
| | <u>ဝန်ဆောင်မှု</u> | | | | |
| ၁၀ | ငါး/ပုစွန် | မက်ထရစ်တန် | ၁၁၅၀၀ | ၂၀၄၀၁ | - |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | <u>ပြည်တွင်း</u> | <u>နိုင်ငံခြား</u> | <u>စုစုပေါင်း</u> |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၇၄.၈၂ | ၄.၀၃ | ၂၇၈.၈၅ |
| (ခ) | အသုံးစရိတ် | ၂၆၈.၁၁ | ၀.၉၄ | ၂၆၉.၀၅ |
| (ဂ) | အသားတင်အမြတ် | ၆.၈၁ | ၃.၀၉ | ၉.၉၀ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၇)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၄.၄၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၂.၉၂ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၉ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၃.၆၇ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၀၇ သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၁၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ရခိုင်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီ၊ စစ်တွေမြို့မှ အဆိုပြုလုပ်ငန်းမှာ ငါးကဏ္ဍဖွံ့ဖြိုးရေး နိုင်ငံခြားငွေ ရရှိနိုင်ခြင်း ဒေသခံများ အလုပ်အကိုင် ရရှိနိုင်ခြင်း စသည့် အကျိုးကျေးဇူးများ ရရှိနိုင်ကြောင်းနှင့် တင်ပြသည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးကြောင်းနှင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြု အအေးခန်းစက်ရုံသည် ရေဆိုးပြန်လည်သန့်စင်စက် (Waste Water Treatment Plant) တပ်ဆင်အသုံးပြုမည်ဟု ဖော်ပြထားသဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် ပြည်ပတင်ပို့မှုအပေါ် ပိုကုန်စံချိန်စံညွှန်း စိစစ်ရန်အတွက် ငါးလုပ်ငန်း ဦးစီးဌာန၏ အရည်အသွေးဆိုင်ရာ စစ်ဆေးမှုများ ခံယူရန်လိုကြောင်း၊ ငါးဖယ်ယူခြင်း ပြုပြင်ထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ တည်ဆဲ ငါးလုပ်ငန်း ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်လိုကြောင်းနှင့် ဖေါက်ဖျက်ပါက အရေးယူဆောင်ရွက်သွားရန် ဖြစ်ကြောင်း၊ တည်ဆောက်မည့် စက်ရုံမြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင်မည့် မြေနေရာ ဖြစ်ရန်လိုကြောင်း၊ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ခွင့်ပြု ဆောင်ရွက်စေသင့်ပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားသို့ အမှန်တကယ် တင်ပို့ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာဖြစ်ကြောင်းနှင့် ယင်းချေးငွေကို လုပ်ငန်းမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့် ပေးဆပ်မည်ဖြစ်ကြောင်း၊ Waste Water Treatment Plant တပ်ဆင် အသုံးပြုသွားမည်ဖြစ်ကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ပဏ္ဍမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်မှ ရေခဲစက်နှင့် အအေးခန်းသိုလှောင်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မှတ်ပုံတင်ကော်မီတီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးအောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် (Ruby Consulting & Trading Ltd.) | ၁။ ဦးဇစ်စွမ် (မန်နေဂျင်း ဒါရိုက်တာ) | အမှတ်-၁၃၃၊ ဆိပ်ကမ်းသာလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးကျော်ဌေး (အမှုဆောင် ဒါရိုက်တာ) | အမှတ်-၃၉၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်တင်တင်မြ (ဒါရိုက်တာ) | အမှတ်-၃၉၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်ယုယုလွင် (ဒါရိုက်တာ) | အမှတ်-၁၃၃၊ ဆိပ်ကမ်းသာလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အကျဉ်းချုပ် များ

( မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှု ဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ပတ္တမြား အတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက်<br>(Ruby Consulting & Trading Ltd.)<br>( ၂၀-၄-၉၂ နေ့တွင် မှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦး ကျော်ငွေး |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုး အစား | ရေခဲစက်နှင့်အအေး ခန်း သို လှောင်ရုံတည် ဆောက်၍ ငါး ၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း<br>- ဦးပိုင်အမှတ် ( ခ/ ၄၀ ၊ ၄၉ ၊ ခ/ ၅၀ ၊ဆ/ ၅၁ က/ ၅၂ ) ၊ ဆတ်ဖိုး ကျွန်းလယ် ၊ မြေကွက်အမှတ် ( ၁၂ ) ၊ ဒံတော်ဗိုရပ်ကွက် ၊ စစ်တွေမြို့ ၊ ရခိုင်ပြည်နယ် ၊ |
| ၅။ | စုစု ပေါင်း ရင်း နှီး မြှုပ်နှံမှု | ကျပ် ၅၀ .၄၁ သန်း ( US$ ၀ .၃၅ သန်းအပါအဝင်) |
| | -ငွေသား | ကျပ် ၂၀ .၀၀ သန်း |
| | - မြေ | ကျပ် ၅ .၀၀ သန်း |
| | -အဆောက်အဦ | ကျပ် ၂၃ .၃၀ သန်း |
| | -စက်ပစ္စည်း | ကျပ် ၂ .၁၁ သန်း ( US$ ၁ .၃၅ သန်း ) |
| ၆။ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | ၅ .၀၀ ဧက ( ၂၀၂၄၂ .၃၉၈၀ စတုရန်းမီတာ ) |
| | - မြေပိုင်ဆိုင်မှု | ကမကထပြုသူ ဒေါက်တာ ကျော်ငွေး<br>(Ruby Consulting Trading Co., Ltd.)<br>အမည်ဖြင့်အချိုး ပြောင်းရရှိထား သော မြေ<br>( မြေကိုမတည် ငွေ ရင်း အဖြစ် ထည့်ဝင်ထား ပါသည်) |
| | - မြေအမျိုး အစား | အိမ်ယာမြေ |

| | |
|---|---|
| | **ပြည်တွင်း** |
| | ( ကျပ် / တစ်တိုး. ) |
| - ရေခဲ | ၆၀၀ |
| | **ဝန်ဆောင်မှု** |
| | ( ကျပ် / မထရစ်တန် ) |
| - ငါး ပုစွန် | ၂၀၄၀၀ |
| ၁၀။ ဝင်ငွေ ( ပုံမှန်နှစ် ) | US$ ၀ .၆ ၇သန်း |
| | ကျပ် ၂၇၄ .၉၂သန်း |
| ၁၁။ အသားတင်အမြတ် ( ပုံမှန်နှစ် ) | US$ ၀ .၅၁သန်း |
| | ကျပ် ၆ .၀၁သန်း |
| ၁၂။ အရင်း ကြေကာလ | ( ၃ ) နှစ်နှင့် ( ၇ ) လ |
| ၁၃။ အရင်း အနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း ( IRR ) | ( ၂၄ .၄၉ ) ရာခိုင်နှုန်း |
| ၁၄။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ် | |
| - ဝင်ငွေခွန် | ကျပ် ၂ .၉၂သန်း |
| | US$ ၀ .၀၉သန်း |
| - ကုန်သွယ်လုပ်ငန်း ခွန် | |
| ( ပြည်တွင်း ရောင်း ရငွေ အပေါ် ၁၀%.) | ကျပ် ၃ .၆၇သန်း |
| ( ပြည်ပ ရောင်း ရငွေအပေါ် ၁၀%) | US$ ၀ .၀၇သန်း |
| ၁၅။ ဝန်ထမ်း အင်အား ( ပြည်တွင်း ) | ( ၁၁၁ ) ဦး |
| ၁၆။ တည်ဆောက်မှုကာလ | ( ၆ ) လ |
| ၁၇။ အခြား | - စက်ပစ္စည်း များ ကိုစင်ကာပူနိုင်ငံ Speed Freeze Technology - မှ ငွေးနိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ရယူမည်ဖြစ်ပြီးတစ်နှစ်လျှင်အတိုး နှုန်း ( ၅ ) ရာခိုင်နှုန်း ဖြင့် ( ၄ ) |

နှစ်အတွင်း ကုန်ချောပစ္စည်း ဖြင့်ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။

- စက်ပစ္စည်း စာရင်း အား ပူးတွဲတင်ပြထား ပါ သည်။
- မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီး ဌာနမှ အဆိုပြုအား ခန်း စက်ရုံသည် ရေဆိုး ပြန်လည် သန့်စင်စက် ( Waste Water Treatment Plant ) - တပ်အသုံး ပြုမည်ဟု ဖော်ပြထား သဖြင့်ပတ်ဝန်းကျင်ထိန်း သိမ်းရေး မူ နှင့်ကိုက်ညီမှု ရှိပါကြောင်း ၊ နှင့်ပြည်ပတင်ပို့မှုအား ပေါ်ပို့ကုန် စံချိန်စံညွှန်း စီစစ်ရန်အတွက်ငါး လုပ်ငန်း ဦးစီး ဌာန၏အရည်အသွေး ဆိုင်ရာစစ်ဆေး မှုများ ခံ ယူရန်လို ကြောင်း ၊ ငါး ဝယ်ယူခြင်း ပြုပြင်ထုတ်လုပ် ခြင်း နှင့်ပတ်သက်၍ တည်ဆဲငါး လုပ်ငန်း ဥပဒေ လုပ်ထုံး လုပ်နည်း များ နှင့်အညီလိုက်နာဆောင် ရွက် ရန်လို ကြောင်း နှင့် ဖောက်ဖျက်ပါကအရေး ယူ ဆောင်ရွက်သွား ရန်ဖြစ် ကြောင်း ၊ တည်ဆောက် မည့်စက်ရုံ မြေနေရာသည် နိုင်ငံတော်မှ ခွင့်ပြုနိုင် မည့် မြေနေရာဖြစ် ရန်လို ကြောင်း ကန့်ကွက်ရန် မရှိပါကြောင်း နှင့်ခွင့်ပြု ဆောင်ရွက် စေသင့်ပါ ကြောင်း ၊ အကြောင်း ပြန်ကြား ပါသည်။
- ရခိုင်ပြည်နယ် အေး ချမ်း သာယာရေး နှင့်ဖွံ့ဖြိုး ရေး ကောင်စီ ၊ စစ်တွေမြို့မှအဆိုပြုလုပ်ငန်းမှ ငါး ကဏ္ဍ ဖွံ့ဖြိုး ရေး ၊ နိုင်ငံခြား ငွေရရှိနိုင်ခြင်း ဒေသခံများ အလုပ်အကိုင် ရရှိနိုင်ခြင်း စသည့် အကျိုး ကျေးဇူး များ ရရှိနိုင်ကြောင်း နှင့်တင်ပြ ပါမြေနေရာတွင်လုပ်ငန်း ဆောင်ရွက် နေခြင်း မရှိသေး ကြောင်း နှင့်ကန့်ကွက်ရန်မရှိ ကြောင်း

ပြန်ကြားထားပါသည်။

- ယင်းလုပ်ငန်း၏ငွေကြေးအထောက်အထားအဖြစ် ပဏ္ဍမြားအတိုင်ပင်ခံနှင့်ရေဝင်းဝယ်ရေး လီမိတက်၏ (၁၃-၁၂-၂၀၀၀) နေ့ ငွေလက်ကျန်မှာ ကျပ် (၆.၀၃) သန်း ရှိကြောင်း တင်ပြထားပါသည်။
- ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းများအား လိုက်နာမည်ဖြစ်ကြောင်း၊ ပြည်ပချေးကွက်ရှိပြီးဖြစ်ကြောင်း၊ ပြည်ပမှချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ချေးယူသူ၏တာဝန်သာဖြစ်ကြောင်းနှင့် ယင်းချေးငွေကိုလုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်ပေးဆပ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် Waste Water Treatment Plant - တပ်ဆင်အသုံးပြုသွားမည်ဖြစ်ကြောင်းနှင့် ယင်းလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။
- ပူးတွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။
- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကော်မရှင်မှ ခွင့်ပြုခဲ့သည့် အေးခန်းနှင့် ငါးပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းပေါင်း

( ၃၀ ) ခု ရှိပြီး ဖြစ်ပါသည်။ ယခုအဆိုပြုလုပ်ငန်းအပါ အဝင်တင်ပြထားသည့်လုပ်ငန်း ပေါင်း ( ၄ ) ခု ရှိပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

တိကျမှန်မြန်

စာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/၂၇၁
ရက်စွဲ ၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက် ပြန်လည်တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏(၂၂-၁-၂၀၀၁) ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၇၀၉/၂၀၀၁(ခ၃က-ဃ)

၁။ ပတ္တမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက် ( RUBY CONSULTING & TRADING ) သည်၊ ရခိုင်ပြည်နယ်၊ စစ်တွေမြို့၊ သံတော်လီရပ်ကွက်၊ မြေကွက်အမှတ် (၁၂) ဆက်ပိုင်းကျအလယ်တွင် တန်(၁၀၀)ဆန့် နိုင်ငံတကာအဆင့်မီ အအေးခန်း သိုလှောင်ရုံနှင့် တန်(၃၀)ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ၊ သန့်ရှင်းလတ်ဆတ်သော ငါး ပုစွန်များ ထုတ်လုပ်ရောင်းချသည့်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာသည့် အဆိုပြုလွှာအပေါ် ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်း အခန်း (၃) ၊ အပိုဒ်(၁၁)အရ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားပြန်ကြားရန်၊ အထက်ရည်ညွှန်းချက်ပါစာဖြင့် တောင်းခံထားပါသည်။

၂။ ပတ္တမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်၏ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ တွေ့ရှိသုံးသပ်ချက်အား အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည် —

(က) အဆိုပြုတင်ပြသည့် ကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင်အမှတ် (၂၉/ ၉၂-၉၃) ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိထားသည့် တိုင်းရင်းသားပိုင်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ ယင်းကုမ္ပဏီမှ တန်(၁၀၀)ဆန့်အအေးခန်း စက်ရုံတည်ဆောက်၍ ငါး ပုစွန်ထုတ်လုပ်ရောင်းချသည့်လုပ်ငန်း တန်(၃၀)ကျ ရေခဲစက်ရုံတည်ဆောက်ခြင်းလုပ်ငန်းသည် နိုင်ငံတော်၏ ကုန်ထုတ်လုပ်မှုကိုလည်းကောင်း၊ ဒေသဖွံ့ဖြိုးရေးကိုလည်းကောင်း၊ အထောက်အကူဖြစ်စေပါသည်။ ၎င်းအပြင် မြန်မာနိုင်ငံသားများ

အတွက် အလုပ်အကိုင်အခွင့်အလမ်း များ ရရှိစေနိုင်ခြင်း၊ စက်မှုနည်းပညာရပ်များ တိုးပွား ရရှိစေမည်ဖြစ်ခြင်း တို့ ကြောင့် ကုမ္ပဏီ၏ စက်ရုံထူထောင်လိုခြင်းကို အားပေးသင့်ပါသည်။

(ခ) နိုင်ငံတော်၏ ရေထွက်ပစ္စည်း အရည်အသွေး မြှင့်တင်ရေး အတွက်၊ လိုအပ်လျက်ရှိသော အအေးခန်း စက်ရုံတည်ဆောက်ရန်ဖြစ်သဖြင့် နိုင်ငံထွက် ရေထွက်ပစ္စည်း များအား တန်ဖိုးမြင့်ရောင်းတန်း၀င်ရေထွက်ပစ္စည်း များ အဖြစ် ပြုပြင်ထုပ်ပိုး၍ ပြည်ပသို့တန်ဖိုး မြှင့် ပစ္စည်း တင်ပို့ရောင်း ချနိုင်မည်ဖြစ်ပါသည်။ ထိုသို့ ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ ပို့ကုန်ပမာဏနှင့်တန်ဖိုး ပါတိုးတက် ရရှိလာစေမည်ဖြစ်ပါသည်။ ၎င်းအပြင် ၊ ပြည်ပတင်ပို့ရောင်းချခြင်းမှ ရရှိသည့်နိုင်ငံခြားငွေ( Export Proceeds )အပေါ်တွင် နိုင်ငံတော်မှ ကောက်ခံရယူသည့် အခွန်အခ ရရှိမည်ဖြစ်ပါသောကြောင့် နိုင်ငံတော်အတွက်လည်း နိုင်ငံခြား ၀င်ငွေ ပါ တိုးတက် ရရှိလာမည်ဖြစ်ပါသည်။

(ဂ) တည်ဆောက်မည့်အအေးခန်း စက်ရုံသည် အမိုးနီးယား ဓါတ်ငွေ့သုံး နိုင်ငံတကာအဆင့်ရှိ စက်ရုံဖြစ်ပြီး ၊ ပတ်၀န်းကျင်ညစ်ညမ်း မှု ကို ကာကွယ်ရန်အတွက် ရေဆိုး ပြန်လည်သန့်စင်စက်(Waste Water Treatment Plant )တစ်ဆင်အသုံး ပြုမည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါ၍ ပတ်၀န်းကျင်ထိန်း သိမ်းရေး မူနှင့် ကိုက်ညီမှုရှိပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ပြည်ပဈေးကွက်ရရှိပြီးဖြစ်၍ ထုတ်လုပ်သည့်အရည်အသွေး မီ ငါး ပုစွန်များ ကို ( ၁၀၀ % )ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ထိုသို့ ဆောင်ရွက်ရာတွင် ပြည်ပပို့ကုန် စံ ချိန်စံညွှန်း စီစစ်ရန်အတွက်၊ ငါး လုပ်ငန်း ဦး စီး ဌာန၏ အရည်အသွေး ဆိုင်ရာစစ်ဆေး မှုများကို ခံယူရန် လိုအပ်ပါသည်။

(င) အအေး ခန်း စက်ရုံတည်ဆောက်ပြီး ငါးပုစွန်ပြုပြင်၍ ကုန်ချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ငါး၀ယ်ယူခြင်း၊ပြုပြင် ထုတ်လုပ်ခြင်း နှင့်ပတ်သက်၍ တည်ဆဲငါး လုပ်ငန်းဥပဒေ၊ လုပ်ထုံး

လုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်သွားရန်လိုအပ်ပါသည်။ စည်းကမ်းဖောက်ဖျက်ပါက တည်ဆဲ ငါးလုပ်ငန်းဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီအရေးယူဆောင်ရွက်သွားရန်ဖြစ်ပါသည်။

(စ) တည်ဆောက်မည့်စက်ရုံမြေနေရာသည် နိုင်ငံတော်မှခွင့်ပြုနိုင်မည့်မြေနေရာဖြစ်ရန် လိုအပ်ပါသည်။

(ဆ) နိုင်ငံတော်ပိုင်အအေးခန်းစက်ရုံနှင့်ပုဂ္ဂလိကပိုင်အအေးခန်းစက်ရုံတို့၏စွမ်းအားသည် ဒေသထွက်ကုန်ပမာဏအရ၊ လိုအပ်ချက် ထက်များစွာလျော့နည်းနေသဖြင့် ဒေသတွင်းခေတ်မီစက်ရုံသစ် ဦးရေတိုးတက်ရန် လိုအပ်လျက်ရှိပါသည်။

(ဇ) ဒေသခံပြည်သူထုထုအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုတိုးတက်ရရှိစေခြင်းဖြင့် ဒေသတွင်းတည်ငြိမ်အေးချမ်းမှုရရှိကာ ၊ နိုင်ငံတော်၏ဦးတည်ချက်(၄)ရပ်အနက် " နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့်တရားဥပဒေစိုးမိုးရေး " ဟူသောဦးတည်ချက်တစ်ရပ်ကို တစ်နည်းတစ်ဖုံ အထောက်အကူပြုရာရောက်ခြင်းစသည့် အကြောင်းအချက်များကြောင့် ပတ္တမြားအတိုင်ပင်ခံရောင်းဝယ်ရေးလီမိတက်မှ တင်ပြလာသည့် စက်ရုံတည်ဆောက်၍ ငါးပုစွန်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါစည်းကမ်းချက်များနှင့်အညီ ခွင့်ပြုဆောင်ရွက်စေသင့်ပါသည် —

- EU STANDARD နှင့်အညီစက်ရုံတည်ဆောက်နိုင်ရေးအတွက်၊ စက်ရုံတည်ဆောက်မည့်မြေဧရိယာအကျယ်အဝန်းသည်အနည်းဆုံး (၂) ဧကခန့်ရှိရန် လိုအပ်ပါသည်။
- လူနေရပ်ကွက်ဖြစ်ပါက၊ ပတ်ဝန်းကျင်သို့ အနံ့အသက်ဆိုးများ မရောက်ရှိစေရေးအတွက်၊ စီစဉ်ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၃။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနအနေနှင့် ပတ္တမြားအတိုင်ပင်ခံနှင့်ရောင်းဝယ်ရေးလီမိတက်၏ အအေးခန်းစက်ရုံ တည်ဆောက်ခြင်း ၊ ရေခဲစက်ရုံတည်ဆောက်ခွင့်ပြုရန်၊ အဆိုပြုချက် အပေါ် ကန့်ကွက်ရန် မရှိပါ

